**ကုမ္ပဏီအမည်** - **Paw Sann Rice International Company Limited**

**လုပ်ငန်း** - **တစ်ရက်လျှင်စပါးတန်(၅၀၀)ကြိတ်ခွဲနိုင်သည့် နိုင်ငံတကာ အဆင့်မီဆန်စက်တည်ထောင်၍ အဆင့်တန်းမြင့်ပေါင်းဆန် ထုတ်လုပ်ခြင်း လုပ်ငန်း**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၁၀-၂-၂၀၁၆ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း<br>(က) စက်မှုဝန်ကြီးဌာန<br>(ခ) စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန<br>(ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန<br>(ဃ) ဧရာဝတီတိုင်း ဒေသကြီး အစိုးရ အဖွဲ့<br>(င) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန | <br>၁၈-၂-၂၀၁၆<br>၁၈-၂-၂၀၁၆<br>၁၈-၂-၂၀၁၆<br>၁၈-၂-၂၀၁၆<br>၁၈-၂-၂၀၁၆ | <br>၃-၃-၂၀၁၆<br>၉-၃-၂၀၁၆<br>၉-၃-၂၀၁၆<br>၂၅-၂-၂၀၁၆<br>၇-၉-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၇/၂၀၁၆) သို့ တင်ပြခြင်း | ၁၆-၂-၂၀၁၆ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၁၇-၂-၂၀၁၆ | | |
| ၅ | မြေအသုံးပြုခွင့် တင်ပြခြင်း<br>(က) ကော်မရှင် အစည်းအဝေး (၆/၂၀၁၆) သို့ တင်ပြခြင်း<br>(ခ) ပြည်ထောင်စုအစိုးအဖွဲ့သို့ တင်ပြရန် ဆောင်ရွက်ဆဲ ဖြစ်ပါသည်။ | | | |
| ၆ | MIC သို့ တင်ပြရန် ကုမ္ပဏီမှ အဆိုပြုလွှာ (၈)စုံ လက်ခံရရှိ | | | |
| ၇ | **စုစုပေါင်း ကြာမြင့်ရက်** | ၄၇ | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - Paw Sann Rice International Company Limited |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | -တစ်ရက်လျှင်စပါးတန်(၅၀၀)ကြိတ်ခွဲနိုင်သည့် နိုင်ငံတကာ အဆင့်မီဆန်စက် တည်ထောင်၍ အဆင့်တန်းမြင့် ပေါင်းဆန် ထုတ်လုပ်ခြင်း လုပ်ငန်း |
| တည်နေရာ | - အကွက်အမှတ်(၂၅၃-က)၊ဦးပိုင်အမှတ်(၈+က/၉) (က,ခ,ဂ,ဃ) နှင့် ဦးပိုင်အမှတ် (၉-ခ+၁၀/၁) (က,ခ,ဂ,ဃ,င,စ) နိဗ္ဗာန်ကွင်း၊ ထောင်မှူးချောင် ကျေးရွာအုပ်စု၊ဖျာပုံခရိုင်၊ဒေးဒရဲမြို့နယ်၊ဧရာဝတီတိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - အမေရိကန်ဒေါ်လာ ၁၃.၅၀ သန်း |
| လုပ်ငန်းသက်တမ်း | - ကနဦး (၃၀)နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| အရင်းကြေကာလ | - ၄ နှစ် ၇ လ |
| IRR | - ၂၆.၃၉% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ(တစ်နှစ်) | ၁.၆၈ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၄၅၈.၃၇၅ | - |
| ၄ | ဝင်ငွေခွန် | ၃၁၇၁.၂၅ | ၄၅၄၆.၂၅ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | - |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ၄၃၈၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |

| | | | |
|---|---|---|---|
| ၈ | CSR (၂%) | | ၄၅၂.၅ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းဝန်ထမ်း ၃၆၅ ဦး အလုပ်အကိုင် ရရှိမည် ဖြစ်ပါသည်။ |
| ၁၀ | စုစုပေါင်း | ၃၆၃၁.၃၀ | ၉၃၇၉.၈၂ |
| ၁၁ | Cost : Benefit | ၁ : ၃ | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Paw Sann Rice International Company Limited တည်ထောင်၍ တစ်ရက်လျှင် စပါးတန် (၅၀၀) ကြိတ်ခွဲနိုင်သည့် နိုင်ငံတကာ အဆင့်မီဆန်စက် တည်ထောင်၍ အဆင့်တန်းမြင့် ပေါင်းဆန် ထုတ်လုပ်ခြင်း လုပ်ငန်း**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - ဦးသူရမြင့် |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Agrastar Pte Limited (၇၀%) (စင်္ကာပူနိုင်ငံ)<br>-ဦးသူရမြင့်(၂၁%)၊ဦးဟန်လင်းထွန်း(၅%)၊<br>ဦးရင်ထွေး (၄%) (မြန်မာနိုင်ငံ) |
| | လုပ်ငန်းအမျိုးအစား | - တစ်ရက်လျှင်စပါးတန်(၅၀၀)ကြိတ်ခွဲနိုင်သည့် နိုင်ငံတကာ အဆင့်မီ ဆန်စက်တည် ထောင်၍ အဆင့်တန်းမြင့် ပေါင်းဆန် ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - အကွက်အမှတ်(၂၅၃-က)၊ဦးပိုင်အမှတ်(၈+က/၉) (က,ခ,ဂ,ဃ)နှင့် ဦးပိုင်အမှတ် (၉-ခ+၁၀/၁) (က,ခ,ဂ,ဃ,င,စ) နိဗ္ဗာန်ကွင်း၊ ထောင်မူချောင်းကျေးရွာအုပ်စု၊ ဖျာပုံခရိုင်၊ ဒေးဒရဲမြို့နယ်၊ ဧရာဝတီတိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဦးရင်ထွေး |
| | မြေအကျယ်အဝန်း | - မြေဧရိယာ (၁၂.၃၉)ဧက |
| ၃။ | မြေနှင့်အဆောက်အဦ ငှားရမ်းခနှုန်း | - တစ်နှစ်ငှားရမ်းခ USD ၁၈,၆၆၆.၆၇ (တစ်နှစ်စတုရန်းမီတာ USD၀.၃၇၂၂၈၆) |
| | မြေငှားရမ်းကာလ | - ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် |
| | လုပ်ငန်းသက်တမ်း | - ကနဦး ၃၀ နှစ် |
| ၄။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၁၃.၅၀ သန်း |

| | | | | |
|---|---|---|---|---|
| | ထည့်ဝင်သည့်အမျိုးအစား | | | US $ (သန်း) |
| | | ပြည်ပ (US$) | ပြည်တွင်း (US$) | စုစုပေါင်း |
| | ငွေသား | ၀.၁၅၀ | ၀.၉၇၈ | ၁.၁၂၈ |
| | စက်ပစ္စည်းများ | ၇.၃၃၄ | - | ၇.၃၃၄ |
| | ကုန်ကြမ်းပစ္စည်း | - | ၂.၃၅၅ | ၂.၃၅၅ |
| | အဆောက်အဦ | ၁.၉၆၁ | ၀.၁၅၇ | ၂.၁၁၈ |
| | မြေငှားရမ်းခ | - | ၀.၅၆၀ | ၀.၅၆၀ |
| | ရုံးသုံးပစ္စည်း | ၀.၀၀၅ | - | ၀.၀၀၅ |
| | **စုစုပေါင်း** | **၉.၄၅** | **၄.၀၅** | **၁၃.၅၀** |
| ၆။ | ပြည်ပမှ အခွန်အကောက်ကင်းလွတ်ခွင့်ဖြင့် တင်သွင်း လိုသည့် စက်ပစ္စည်းများ | - ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများကိုတင်ပြထားပါသည်။ | | |
| ၇။ | ဝန်ထမ်းအင်အား | - ၃၅၉ ဦး | | |
| | ပြည်တွင်း | - ၃၅၆ ဦး (အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။) | | |
| | ပြည်ပ | - ၃ ဦး (အနိမ့်ဆုံးလစာမှာ US$ ၂၅၀၀ ဖြစ်ပါသည်။) | | |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်ပ ၁၀၀% | | |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမမြောက်နှစ်) | - US$ ၃၃.၀၀ သန်း | | |
| | အသုံးစရိတ် | - US$ ၃၁.၆၃သန်း | | |
| | အသားတင်အမြတ် | - US$ ၁.၃၇ သန်း | | |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမမြောက်နှစ် ) | | | |

| | | |
|---|---|---|
| | ဝင်ငွေခွန် | - US$ ၀.၄၆ သန်း |
| | အရင်းကြေကာလ | - ၄ နှစ် နှင့် ၇ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၆.၃၉% |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (ဆဋ္ဌမမြောက်နှစ်) | - ၃၆၇၅၆၉၁ kwh |
| ၁၂။ | နှစ်စဉ်ထုတ်လုပ်မှု(ဆဋ္ဌမမြောက်နှစ်) | |

| ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (မက်ထရစ်တန်) | | ရောင်းဈေးနှုန်း | |
|---|---|---|---|---|
| | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (ကျပ်/ MT) | ပြည်ပ (US$/ MT) |
| Rice | - | ၆၂၅၀၀ | | ၄၉၀ |
| Broken Rice | ၁၅၆၂၅ | - | ၁၃၀,၀၀၀ | - |
| Bran | ၇၅၀၀ | - | ၁၂၅,၀၀၀ | - |

| | | |
|---|---|---|
| ၁၃။ | **စိစစ်တွေ့ရှိချက်** | - ယခုလုပ်ငန်းသည် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုမှ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုသို့ ပြောင်းလဲသော လုပ်ငန်း တစ်ခုဖြစ်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် အစည်းအဝေးမှ ၂၀၁၆ခုနှစ် ဇန်နဝါရီလ(၂၂)ရက်နေ့တွင် ကျင်းပသော (၂/၂၀၁၆) ကြိမ်မြောက် ခွင့်ပြု ထားပါ သည်။<br>- လုပ်ငန်းလုပ်ကိုင်မည့် ၂၅၃-က ဦးပိုင်အမှတ် ၈+က/၉ (က,ခ,ဂ,ဃ) အတွင်းရှိ မြေ ၄.၂၅ဧကနှင့် ပတ်သက်၍ ဦးပိုင်ရာဇဝင် မြေစာရင်းပုံစံ(၁၀၆)ကို ဖော်ပြထားပါ သည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၂/ န-၁၄၆ /၂၀၁၆ ( ၂၄၇ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၇ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Paw Sann Rice International Company Limited တည်ထောင်၍ တစ်ရက်လျှင် စပါးတန် (၅၀၀) ကြိတ်ဝါးနိုင်သည့် နိုင်ငံတကာ အဆင့်မီဆန်စက် တည်ထောင်၍ အဆင့်တန်းမြင့် ပေါင်းဆန် ထုတ်လုပ်ခြင်း လုပ်ငန်း**

၁။ စင်္ကာပူနိုင်ငံ Agrastar Pte Limited မှ (၇၀%) နှင့် မြန်မာနိုင်ငံမှ ဦးသူရမြင့်(၂၁%) ၊ ဦးဟန်လင်းထွန်း(၅%)၊ ဦးရင်ထွေး(၄%) တို့မှ အစုရှယ်ယာများ ထည့်ဝင်၍ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Paw Sann Rice International Company Limited တည်ထောင်ကာ ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံခရိုင်၊ ဒေးဒရဲမြို့နယ်၊ ထောင်မှူးချောင် ကျေးရွာအုပ်စု၊ နိဗ္ဗာန်ကွင်း၊ အကွက်အမှတ်(၂၅၃-က)၊ ဦးပိုင်အမှတ် (၈+က/၉) (က,ခ,ဂ,ဃ) အတွင်းရှိ မြေ(၄.၂၅)ဧက နှင့် ဦးပိုင်အမှတ် (၉-ခ+၁၀/၁) (က,ခ,ဂ,ဃ,င,စ) အတွင်းရှိ မြေ(၈.၁၄)ဧက၊ စုစုပေါင်း မြေ(၁၂.၃၉) ဧက ကို ငှားရမ်း၍ တစ်ရက်လျှင် စပါးတန် (၅၀၀) ကြိတ်ဝါးနိုင်သည့် နိုင်ငံတကာ အဆင့်မီဆန်စက် တည်ထောင်၍ အဆင့်တန်းမြင့် ပေါင်းဆန် ထုတ်လုပ်ခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြ လာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဦးရင်ထွေး နှင့် Paw Sann Rice International Company Limited တို့ကြား ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)၊ မြန်မာနိုင်ငံမှ ဦးသူရမြင့်၊ ဦးဟန်လင်းထွန်း၊ ဦးရင်ထွေး နှင့် စင်္ကာပူနိုင်ငံ မှ Agrastar Pte.Ltd. တို့အကြား ချုပ်ဆိုမည့်

ဖက်စပ်စာချုပ် (မူကြမ်း) နှင့် Shareholders Agreement ၊ မြေ အထောက်အထားများ၊ အဆောက်အဦဓါတ်ပုံ စသည်တို့ကို တင်ပြထားပါသည်။

၃။ လုပ်ငန်း ဆောင်ရွက်မည့်နေရာသည် ဒါရိုက်တာ ဦးရင်ထွေးအမည်ဖြင့် ရရှိထားသော ရောဝတီတိုင်းဒေသကြီး၊ဖျာပုံခရိုင်၊ ဒေးဒရဲမြို့နယ် မြေ(၄.၂၅)ဧက နှင့် မြေ(၈.၁၄)ဧကအပါအဝင်၊ စုစုပေါင်း မြေ(၁၂.၃၉) ဧက အား ကုမ္ပဏီသို့ တစ်နှစ်တစ်စတုရန်းမီတာလျှင် (USD၀.၃၇၂၂၈၆) နှုန်းဖြင့် ကုမ္ပဏီသို့ ငှားရမ်းမည်ဖြစ်ပါသည်။ တစ်နှစ်ငှားရမ်းခမှာ USD ၁၈,၆၆၆.၆၇ ဖြစ်ပါ သည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၃၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလ မှာ ၂နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ၁၃.၅၀သန်းဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

US $ (သန်း)

| | ပြည်ပ | ပြည်တွင်း | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၀.၁၅၀ | ၀.၉၇၈ | ၁.၁၂၈ |
| စက်ပစ္စည်းများ | ၇.၃၃၄ | - | ၇.၃၃၄ |
| ကုန်ကြမ်းပစ္စည်း | - | ၂.၃၅၅ | ၂.၃၅၅ |
| အဆောက်အဦ | ၁.၉၆၁ | ၀.၁၅၇ | ၂.၁၁၈ |
| မြေငှားရမ်းခ | - | ၀.၅၆၀ | ၀.၅၆၀ |
| ရုံးသုံးပစ္စည်း | ၀.၀၀၅ | - | ၀.၀၀၅ |
| **စုစုပေါင်း** | **၉.၄၅** | **၄.၀၅** | **၁၃.၅၀** |

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၃၅၆)ဦး နှင့် ပြည်ပ (၃) ဦး စုစုပေါင်း (၃၅၉)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏အနိမ့်ဆုံးလစာမှာ US$ ၂၅၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ဆန်နှင့် ဆန်ထွက်ပစ္စည်းများကို ပြည်ပသို့ ၁၀၀% ရောင်းချမည် ဖြစ်ပြီး ဆန်ကွဲနှင့် ဖွဲနုတို့ကို ပြည်တွင်း တွင်ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှု နှင့် ရောင်းချမှု ဈေးနှုန်းမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (မက်ထရစ်တန်) | | ရောင်းဈေးနှုန်း | |
|---|---|---|---|---|
| | ပြည်တွင်း | ပြည်ပ | ပြည်တွင်း (ကျပ်/ MT) | ပြည်ပ (US$/ MT) |
| Rice | - | ၆၂၅၀၀ | | ၄၉၀ |
| Broken Rice | ၁၅၆၂၅ | - | ၁၃၀,၀၀၀ | - |
| Bran | ၇၅၀၀ | - | ၁၂၅,၀၀၀ | - |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | US $ (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၃၃.၀၀ |
| (ခ) | အသုံးစရိတ် | - | ၃၁.၆၃ |
| (ဂ) | အသားတင်အမြတ် | - | ၁.၃၇ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၄၅၈.၁၀ သန်း ဖြစ်ပါသည်။ လုပ်ငန်း ၏ အရင်းကြေကာလမှာ ၄ နှစ် ၇ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ် နှုန်း(IRR) မှာ ၂၆.၃၉% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာတစ်ဒေါ်လာလျှင် ၁၂၅၀ ကျပ်နှုန်း ဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ဧရာဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ ၊ စီးပွားရေးနှင့် ကူးသန်း

ရောင်းဝယ်ရေးဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီးဌာနတို့သို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားပြန်ကြားလာပါသည်-

(က) ဧရာဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့ မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိ မြို့ပြစီမံကိန်းကို ထိခိုက်ခြင်း မရှိပါကြောင်း၊ Paw Sann Rcice International Company Limited ၏ ယခုအဆိုပြုလာသည့် တစ်ရက်လျှင် စပါးတန်(၅၀၀)ကြိတ်ဝါးနိုင်သည့် နိုင်ငံတကာ အဆင့်မီ ဆန်စက်တည်ထောင်၍ အဆင့်အတန်းမြင့် ပေါင်းဆန်ထုတ်လုပ်ခြင်း လုပ်ငန်း ပေါ်ပေါက်လာပါက ဒေသခံပြည်သူများ အလုပ်အကိုင်၊ အခွင့်အလမ်း နှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေနိုင်ပါကြောင်း၊ အဆိုပြုလျှောက်လာသည့် နေရာတွင် လုပ်ငန်းများဆောင်ရွက်ခြင်းဖြင့် ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊ အဆိုပြုတင်ပြထားသည့် မြေနေရာသည် သဘာဝ ပတ်ဝန်းကျင် အား ထိခိုက်နိုင်ခြင်းမရှိသောကြောင့် လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာ ဖြစ်ပါကြောင်း၊ တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ပြောင်းလဲလာသည့် ခေတ်စနစ်၊ ဥပဒေများနှင့်အညီ တိုင်းဒေသကြီးအတွင်းရှိ ဒေသခံပြည်သူ အလုပ်အကိုင် အခွင့်အလမ်းရရှိစေရေး၊ စီးပွားရေးဖွံ့ဖြိုးတိုးတက်စေရေးတို့ကို ဦးစားပေး ဆောင်ရွက်လျက် ရှိပါသဖြင့် ယခုအဆိုပြုလာသည့် Paw Sann Rcice International Company Limited၏ တစ်ရက်လျှင် စပါးတန်(၅၀၀) ကြိတ်ဝါးနိုင်သည့် နိုင်ငံတကာ အဆင့်မီဆန်စက် တည်ထောင်၍ အဆင့်အတန်းမြင့် ပေါင်းဆန် ထုတ်လုပ်ခြင်း လုပ်ငန်းသည် ဧရာဝတီတိုင်းဒေသကြီးအတွင်း အကျိုးရှိစေမည့် လုပ်ငန်း ဖြစ်ပါ သဖြင့် ပြည်ပရင်းနှီးမြှုပ်နှံမှုများအပေါ် ထောက်ခံပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားလာပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ လုပ်ငန်းများ ကြောင့် ထွက်ရှိလာမည့် စပါးခွံများ၊ စက်ရုံမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း အစိုင်အခဲများ၊ စွန့်ပစ်အရည်များ၊ စက်ယန္တရားများမှ ထွက်ရှိ လာမည့် စက်မောင်း ဆီဖိတ်စင်မှုများ၊ စွန့်ပစ်အင်ဂျင်အမဲဆီများ၊ စသည်တို့အား စနစ်တကျ စီမံခန့်ခွဲမှု

မပြုပါက ပတ်ဝန်းကျင်ရေထု၊ လေထုနှင့် မြေဆီလွှာ ထိခိုက်မှုများဖြစ်ပေါ်နိုင်ခြင်း၊ စက်ရုံလုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဆူညံသံများ၊ အမှုန်အမွှားများ၊ ဖုန်မှုန့်များ၊ မီးခိုးများကြောင့် ပတ်ဝန်းကျင် ပြည်သူလူထုအား အနှောက်အယှက်ဖြစ်စေခြင်း စသည့် ပတ်ဝန်းကျင် ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ကြောင်း၊ လုပ်ငန်းများ ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို အနည်းဆုံးဖြစ်စေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များကို အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ပူးပေါင်း ဆောင်ရွက်မှု (Corporation Social Responsibility - CSR)အတွက် အသားတင်အမြတ်ငွေ၏(၂%) ကို အသုံးပြုခြင်း အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ စပါးကြိတ်ခွဲခြင်း၊ ပြုတ်ဆန်ထုတ်လုပ်ခြင်းကြောင့် စက်ရုံမှ ထွက်ရှိလာ မည့် စွန့်ပစ်အရည်များ၊ အခိုးအငွေ့များ၊ အနံ့အသက်များ၊ အမှုန်များအား သတ်မှတ် စံချိန် စံညွှန်း နှင့်အညီ စွန့်ပစ်နိုင်ရေးအတွက် အဆင့်မြင့်နည်းပညာ နှင့် ကိရိယာများ အသုံးပြု ဆောင်ရွက်ရန်၊ လုပ်ငန်းခွင် လေကောင်း လေသန့် ရရှိရေး၊ ပတ်ဝန်းကျင်သန့်ရှင်း ကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီး ရေလာ စနစ်ကို စီမံထားရှိရန်၊ စက်ရုံမှ စွန့်ပစ်ရေများကို စွန့်ပစ်ရာတွင် သတ်မှတ် စံချိန်စံညွှန်းနှင့်အညီ စွန့်ပစ်ရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်များ မဖြစ်စေရေး (သို့မဟုတ်) ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) လုပ်ငန်း ဆောင်ရွက်ရန်ပြီး အစီရင်ခံစာ ရေးဆွဲတင်ပြရန်၊ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်း များအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သော ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) အား ရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်း အကောင် အထည်ဖော် ဆောင်ရွက်ရန်။

ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း စည်းကမ်း နှင့် ညွှန်ကြားချက်များကို တိကျစွာလိုက်နာဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း အစီအစဉ် (IEE)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (EMP) တို့ကို ဆောင်ရွက် သွားမည် ဖြစ်ကြောင်း တင်ပြထားပါ သည်။)** **(နောက်ဆက်တွဲ-ခ)**

(ဂ) **စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနမှ** တင်သွင်းမည့်စက်ပစ္စည်းများ၏ Technical Specification များအား ထည့်သွင်းတင်ပြပေးရန် လိုအပ်ပါကြောင်း၊ အသစ်တပ်ဆင်တည်ဆောက် မည့်စက်များအတွက် Processign Chart၊ Machine Layout Plan နှင့် Project Site Detail Layout Plan များကိုပါ အသေးစိတ် ဖော်ပြရန် လိုအပ်ပါကြောင်း၊ အသစ်တိုးချဲ့ တည်ဆောက်မည့် အဆောက်အဦးပုံစံအား ရှင်းလင်းပြတ်သားစွာ တင်ပြပေးရန် လိုအပ်ပါကြောင်း၊ ဒေသခံများ အလုပ်အကိုင် အခွင့်အလမ်း ရရှိစေခြင်း၊ ဆန်စပါး အခြေခံ ထုတ်လုပ်မှု နည်းပညာများ တိုးတက် ဖွံ့ဖြိုးလာနိုင်ခြင်း၊ နိုင်ငံခြားဝင်ငွေ တိုးတက်လာ နိုင်ခြင်း၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် ညီညွတ်ပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - ဂ)**

(ဃ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှု နှင့် ဘွိုင်လာအသုံးပြုမှုများ ကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက် ရန်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်၊ ပုဂ္ဂလိကစက်မှု လုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန်၊ တည်ဆဲဥပဒေ လုပ်ထုံး လုပ်နည်း များနှင့် ညီညွတ်ပါကကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြားထား ပါသည်။ **[စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း နှင့် ဆောင်ရွက်ထားရှိမှုကို ဆက်လက် တင်ပြသွားမည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။]**

**(နောက်ဆက်တွဲ-ဃ)**

(င) **လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-င)**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ Kanbawza Bank တွင် Paw Sann Rice International Co., LTD. အမည်ဖြင့် ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၂၈ ရက်နေ့ ရက်စွဲဖြင့် USD ၇၅၀၀၀ သန်းရှိကြောင်း စင်္ကာပူနိုင်ငံ OCBC Bank တွင် Agarastar Pte. Ltd., အမည်ဖြင့် ၂၀၁၆ခုနှစ် ဇန်နဝါရီလ ၃၁ ရက်စွဲဖြင့် USD ၄,၄၂၂,၀၂၉ရှိကြောင်းနှင့် ဒါရိုက်တာအဖွဲ့ဝင်များ၏ Passport မိတ္တူများ နှင့် နိုင်ငံသား မှတ်ပုံတင် မိတ္တူများကို တင်ပြထားပါသည်။

၁၂။ Paw Sann Rice International Co., LTD. မှ တည်နေရာပြမြေပုံ၊ လုပ်ငန်းသဘောသဘာဝ ရှင်းလင်းချက်၊ ရေနှင့် လျှပ်စစ်ဓါတ်အား ရယူသုံးစွဲမည့် အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက် အစီအစဉ်၊ လုပ်ငန်းခွင်သာယာရေးအတွက် ဆောင်ရွက်ထားရှိမှု၊ ကျန်းမာရေးနှင့် လုပ်ငန်းခွင်အန္တရာယ် ကင်းရှင်းရေး ဆောင်ရွက်ထားရှိမှု၊ ဝန်ထမ်းများအတွက် ကျန်းမာရေး၊ လူမှုရေး စောင့်ရှောက်ထားရှိမည့် အစီအစဉ်များ ကတိဝန်ခံချက်တို့ကို တင်ပြထားပါသည်။

၁၃။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အမြတ်ငွေ၏ ၂% ကို Cooperate Social Responsibility (CSR) လုပ်ငန်းတွင် ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထား ပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၁၆ ရက်နေ့တွင် ကျင်းပသော ၇/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၆။ အောက်ပါအတိုင်းစိစစ်တွေ့ရှိရပါသည်-

(က) ဗဟိုလယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့ မှ ဧရာဝတီတိုင်းဒေသကြီး လယ်ယာမြေ စီမံခန့်ခွဲမှု အဖွဲ့သို့ အဆိုပါ မြေနှင့် စပ်လျဉ်း၍ လုပ်ငန်းများအား ကြိုတင် ဆောင်ရွက်နိုင်ပါကြောင်း အကြောင်းကြားသည့်စာ၊ လယ်ယာမြေ (၈.၁၄)ကေ

အား ဗဟိုလယ်ယာမြေ စီမံခန့်ခွဲမှုအဖွဲ့၏ လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့်(ပုံစံ-၁၅) အားတင်ပြထားပါသည်။

(ခ) အဆိုပြုလုပ်ငန်းအတွက် လိုအပ်သော ချေးငွေအား ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီး လုပ်ငန်းဆောင်ရွက်ချိန်တွင် ရယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဂ) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စကို ကော်မရှင်၏ ၆/၂၀၁၆ ကြိမ်မြောက် အစည်းအဝေး နှင့် ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက် တင်ပြထားပါသည်။ ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင် ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Paw Sann Rice International Company Limited တည်ထောင်၍ တစ်ရက်လျှင် စပါးတန် (၅၀၀) ကြိတ်ဝါးနိုင်သည့် နိုင်ငံတကာ အဆင့်မီဆန်စက် တည်ထောင်၍ အဆင့်တန်းမြင့် ဆေးဆန် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ


H:\TTS\Paw Sann rice International\Paw Sann Rice MIC\Paw Sann rice (MIC -Memo).doc

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Paw Sann Rice International Company Limited | Agrastar Pte Ltd<br>Represented by:<br>(၁) Mr.Kevin McKenzie<br>Director<br>Canadian<br>GA 274731 | 19 Cairnhill circle#06-05 Light@Cairnhill, The Singapore(229768) |
| | | (၂) U Thura Myint<br>Director<br>Myanmar<br>12/Ba Ha Na(Naing) 001518 | Room No.(608), Building No.(12+1) Parami Road. Parami Condo, (16) Ward Hlaing Township, Yangon Region. |
| | | (၃) U Han Lin Tun<br>Director<br>Myanmar<br>9/Sa Ka Na(Naing)055198 | Rome Pin Kone Village, Lat Pan Hla Village Tract, Sintku Township, Mandalay Region. |
| | | (၄) U Yin Htwe<br>Director<br>Myanmar<br>12/Aha La Na (Naing) 038316 | No.216, 8th Floor, Room No. (B-7), Bo Myat Tun Housing, Mahabandoola Road, Pazundaung Township, Yangon Region, The Republic of the Union of Myanmar |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၅၁၈၁၉၇၉

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - တိုက်(၁၂+၁)၊ အခန်းအမှတ်(၆၀၈)၊ ပါရမီကွန်ဒို၊ ပါရမီလမ်း၊ (၁၆) ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးသူရမြင့်
ဒါရိုက်တာ

| | | | |
|---|---|---|---|
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | တစ်ရက်လျှင် စပါးတန်(၅၀၀) ကြိတ်ခွဲနိုင်သည့် နိုင်ငံတကာအဆင့်မီ ဆန်စက် တည်ထောင်၍ အဆင့်တန်းမြင့် ပေါင်းဆန် ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |

နောက်ဆက်တွဲ (က)

MIC, 97
24/2

ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ ပုသိမ်မြို့
စာအမှတ်...
ရက်စွဲ...

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ဧရာဝတီတိုင်းဒေသကြီး

စာအမှတ်၊ ၁၀၀/၃ - ၁/အစိုးရ(ဧရာဝတီ)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ၊ ဖေဖော်ဝါရီလ ၂၃ ရက်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်လည်တင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈. ၂. ၂၀၁၆ ရက်စွဲပါစာအမှတ်ရက-၂/ န-၁၄၆/၂၀၁၆ (၁၆၂)

၁။ စင်္ကာပူနိုင်ငံ Agrastar Pte Limited မှ (၇၀%)နှင့် မြန်မာနိုင်ငံမှ ဦးသူရမြင့်(၂၀%)၊ ဦးဟန်လင်းထွန်း(၅%)၊ ဦးရင်ထွေး(၄%)တို့မှ အစုရှယ်ယာများ ထည့်ဝင်၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Paw Sann Rice International Company Limited တည်ထောင်ကာ ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံခရိုင်၊ ဒေးဒရဲမြို့နယ်၊ ထောင်မှူးချောင်းကျေးရွာအုပ်စု၊ နိဗ္ဗာန်ကွင်း၊ အကွက်အမှတ်(၂၅၃-က)၊ ဦးပိုင်အမှတ်(၈+က/၉)(က၊ခ၊ဂ၊ဃ)အတွင်းရှိမြေ(၄. ၂၅)ဧကနှင့် ဦးပိုင်အမှတ်(၉-ခ+၁၀/၁)(က၊ခ၊ဂ၊ဃ၊င၊စ)အတွင်းရှိ မြေ(၈. ၁၄)ဧက၊ စုစုပေါင်းမြေ(၁၂. ၃၉)ဧကကို ငှားရမ်း၍ တစ်ရက်လျှင် စပါးတန်(၅၀၀)ကြိတ်ခွဲနိုင်သည့် နိုင်ငံတကာအဆင့်မီဆန်စက်တည်ထောင်၍ အဆင့်တန်းမြင့် ပေါင်းဆန်ထုတ်လုပ်ခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်အား စိစစ်ပြီး သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ အောက်ဖော်ပြပါအချက်များအား လိုအပ်သလိုဆက်လက်ဆောင်ရွက်နိုင်ပါရန် သဘောထားပေးပို့တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့်(သို့) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းရှိ/မရှိ

ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံခရိုင်၊ ဒေးဒရဲမြို့နယ်၊ ထောင်မှူးချောင်းကျေးရွာအုပ်စု၊ နိဗ္ဗာန်ကွင်း၊ အကွက်အမှတ်(၂၅၃-က)၊ ဦးပိုင်အမှတ်(၈+က/၉)(က၊ခ၊ဂ၊ဃ)အတွင်းရှိမြေ(၄. ၂၅)ဧကနှင့် ဦးပိုင်အမှတ်(၉-ခ+၁၀/၁)(က၊ခ၊ဂ၊ဃ၊င၊စ)အတွင်းရှိ မြေ(၈. ၁၄)ဧက၊ စုစုပေါင်းမြေ(၁၂. ၃၉)ဧကသည် လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်မှုမရှိနိုင်သလို နောင်ပြုလုပ်မည့် မြို့ပြစီမံကိန်းအားလည်း ထိခိုက်မှုမရှိနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

(ခ) **မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်/မဖြစ်**

Paw Sann Rice International Company Limited ၏ ယခုအဆိုပြုလာသည့် တစ်ရက်လျှင် စပါးတန်(၅၀၀)ကြိတ်ခွဲနိုင်သည့် နိုင်ငံတကာအဆင့်မီဆန်စက် တည်ထောင်၍ အဆင့်တန်းမြင့် ပေါင်းဆန်ထုတ်လုပ်ခြင်းလုပ်ငန်း ပေါ်ပေါက်လာပါက ဒေသခံပြည်သူများ အလုပ်အကိုင်၊ အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

(ဂ) **အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိ/မရှိ**

အဆိုပြုလျှောက်ထားလာသည့်နေရာတွင် Paw Sann Rice International Company Limited ၏ လုပ်ငန်းများဆောင်ရွက်ခြင်းဖြင့် ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ ထိခိုက်နိုင်ခြင်းမရှိပါကြောင်း ထောက်ခံအပ်ပါသည်။

(ဃ) **လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဟုတ်/မဟုတ်**

အဆိုပြုတင်ပြထားသည့်မြေနေရာသည် သဘာဝပတ်ဝန်းကျင်အား ထိခိုက်နိုင်ခြင်းမရှိသောကြောင့် လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပါကြောင်း ထောက်ခံအပ်ပါသည်။

(င) **တိုင်းဒေသကြီးအစိုးရအဖွဲ့၏အကြံပြုချက်**

တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ပြောင်းလဲလာသည့်ခေတ်စနစ်၊ ဥပဒေများနှင့်အညီ တိုင်းဒေသကြီးအတွင်းရှိ ဒေသခံပြည်သူအလုပ်အကိုင်အခွင့်အလမ်းရရှိစေရေး၊ စီးပွားရေးဖွံ့ဖြိုးတိုးတက်စေရေးတို့ကို ဦးစားပေးဆောင်ရွက်လျက်ရှိပါသဖြင့် ယခုအဆိုပြုလာသည့် Paw Sann Rice International Company Limited ၏ တစ်ရက်လျှင် စပါးတန်(၅၀၀)ကြိတ်ခွဲနိုင်သည့် နိုင်ငံတကာအဆင့်မီဆန်စက် တည်ထောင်၍ အဆင့်တန်းမြင့် ပေါင်းဆန်ထုတ်လုပ်ခြင်းလုပ်ငန်းသည် ဧရာဝတီတိုင်းဒေသကြီးအတွင်း အကျိုးရှိစေမည့် လုပ်ငန်းဖြစ်ပါသဖြင့် ပြည်ပရင်းနှီးမြှုပ်နှံမှုများအပေါ် ထောက်ခံပါကြောင်း အကြံပြုအပ်ပါသည်။

( သိန်းအောင် )
ဝန်ကြီးချုပ်

DrMZHLetter

မိတ္တူကို

Paw Sann Rice International Company Limited

လှည့်လည်စာတွဲ/ရုံးလက်ခံ

နောက်ဆက်တွဲ (ခ)

MIC / ၈၈ / ၅/၃

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ဝဝ၁/MIC(OSS)/ ၀၁( ၇၃ /၁၆ )
ရက် စွဲ ၊ ၂၀၁၆ခုနှစ် မတ် လ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Paw Sann Rice International Company Limited မှ အဆင့်အတန်းမြင့်ပေါင်းဆန်ထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၂/ န-၁၄၆/ ၂၀၁၆(၁၆၄)

၁။ စင်္ကာပူနိုင်ငံ Agrastar Pte Limited မှ(၇၀%)နှင့် မြန်မာနိုင်ငံမှ ဦးသူရမြင့်(၂၀%)၊ ဦးဟန်ထွန်းလင်း(၅%)၊ ဦးရင်ထွေး(၄%)တို့မှ အစုရှယ်ယာများထည့်ဝင်၍ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Paw Sann Rice International Company Limited တည်ထောင်ကာ ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံခရိုင်၊ ဒေးဒရဲမြို့နယ်၊ ထောင်မှူးချောင်းကျေးရွာအုပ်စု၊ နိဗ္ဗာန်ကွင်း၊ အကွက်အမှတ်(၂၅၃-က)၊ ဦးပိုင်အမှတ်(၈+က/၉)(က၊ခ၊ဂ၊ဃ) အတွင်းရှိမြေ(၄.၂၅)ဧကနှင့် ဦးပိုင်အမှတ်(၉-ခ+၁၀/၁)(က၊ခ၊ဂ၊ဃ၊င၊စ)အတွင်းရှိမြေ(၈.၁၄) ဧက၊ စုစုပေါင်း(၁၂.၃၉)ဧကကို ငှားရမ်း၍တစ်ရက်လျှင် စပါးတန်(၅၀၀)ကြိတ်ခွဲနိုင်သည့် နိုင်ငံတကာအဆင့်မီဆန်စက်တည်ထောင်၍ အဆင့်အတန်းမြင့်ပေါင်းဆန်ထုတ်လုပ်ခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၃၀)နှင့်သက်တမ်းတိုး(၁၀)နှစ်(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၂)နှစ်ဖြစ်ကြောင်း၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသား

တင်အမြတ်ငွေ၏(၂%)ကို လူမှုရေးဆိုင်ရာတာဝန်ခံပူးပေါင်းဆောင်ရွက်မှု ( Corporate Social Responsibility – CSR)လုပ်ငန်းများတွင်ထည့်သွင်းအသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ လုပ်ငန်းမှထွက်ရှိလာသော စွန့်ပစ်အရည်များ၊ အခိုးအငွေ့များ၊ အနံ့အသက်များ၊ အမှုန်များအားသတ်မှတ်စံချိန်စံညွှန်းနှင့်အညီစနစ်တကျစွန့်ပစ်သွားမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ထိခိုက်မှု၊ လူမှုရေး၊ ကျန်းမာရေးထိခိုက်မှုမရှိစေရန် စနစ်တကျစီစဉ်ဆောင်ရွက်ထားရှိမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ Paw Sann Rice International Company Limited မှ အဆင့်မြင့်ပေါင်းဆန်ထုတ်လုပ်ခြင်းလုပ်ငန်းများကြောင့်ထွက်ရှိလာမည့် စပါးခွံများ၊ စက်ရုံမှထွက်ရှိလာမည့်စွန့်ပစ်ပစ္စည်းအစိုင်အခဲများ၊ စွန့်ပစ်အရည်များ၊ စက်ယန္တရားများမှထွက်ရှိလာမည့် စက်မောင်းဆီဖိတ်စင်မှုများ၊ စွန့်ပစ်အင်ဂျင်ဝိုင်အမဲဆီများ၊ စသည်တို့အားစနစ်တကျစီမံခန့်ခွဲမှုမပြုပါက ပတ်ဝန်းကျင်ရေထု၊ လေထုနှင့်မြေဆီလွှာထိခိုက်မှုများဖြစ်ပေါ်နိုင်ခြင်း၊ စက်ရုံလုပ်ငန်းခွင်မှထွက်ရှိလာမည့်ဆူညံသံများ၊ အမှုန်အမွှားများ၊ ဖုန်မှုန့်များ၊ မီးခိုးများကြောင့် ပတ်ဝန်းကျင်ပြည်သူလူထုအားအနှောက်အယှက်ဖြစ်စေခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Paw Sann Rice International Company Limited မှ အဆင့်မြင့်ပေါင်းဆန်ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များကို အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံပူးပေါင်းဆောင်ရွက်မှု (Corporate Social Responsibility – CSR)အတွက်အသားတင်အမြတ်ငွေ၏(၂%)ကိုအသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအားလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်မှုမရှိ

စေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (**Environmental Impact Assessment-EIA** )ကိုဆောင်ရွက်ပြီး အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုများမဖြစ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သော ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( **Environmental Management Plan - EMP** )အားရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ စက - ၁၄/၂(၁) - ၄၉ /၂၀၁၆ ( ၁ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈ - ၂ - ၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၂/န-၁၄၆/၂၀၁၆ (၁၆၅)

၁။ ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံခရိုင်၊ ဒေးဒရဲမြို့နယ်၊ ထောင်မှူးချောင်းကျေးရွာအုပ်စု၊ နိဗ္ဗာန်ကွင်း၊ အကွက်အမှတ်(၂၅၃-က)၊ ဦးပိုင်အမှတ် (၈+က/၉) (က, ခ, ဂ, ဃ) အတွင်းရှိ မြေ (၄.၂၅) ဧကနှင့် ဦးပိုင်အမှတ် (၉-ခ+၁၀/၁) (က,ခ,ဂ,ဃ) အတွင်းရှိ မြေ (၈.၁၄) ဧက၊ စုစုပေါင်း မြေ (၁၂.၃၉)ဧကအား Paw Sann Rice International Co., Ltd ကို ငှားရမ်း၍ တစ်ရက်လျှင် စပါးတန်(၅၀၀)ကြိတ်ခွဲနိုင်သည့် နိုင်ငံတကာအဆင့်မီ ဆန်စက် တည်ထောင်၍ အဆင့်တန်းမြင့် ပေါင်းဆန် ထုတ်လုပ်ခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြုတင်ပြလာသော Paw Sann Rice International Company Limited သည် ယခင်က မြန်မာနိုင်ငံသားကုမ္ပဏီတစ်ခုအနေဖြင့် နိုင်ငံတကာအဆင့်မီ ဆန်စက်တည်ထောင်ပြီး အဆင့်တန်းမြင့် ပေါင်းဆန်ထုတ်လုပ်ခြင်းလုပ်ငန်းအား လုပ်ကိုင်ခွင့် ရရှိထားပြီးဖြစ်ပါသည်။ ယခုအခါ နိုင်ငံခြားရင်းနှီးမြှုပ်နှံသူ စင်္ကာပူနိုင်ငံမှ Agrastar Pte Limited နှင့် မြန်မာနိုင်ငံသား ဖက်စပ်ပြုလုပ်၍ အဆိုပြုတင်ပြလာသော လုပ်ငန်းဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။ အဆိုပါ ဖက်စပ်ကုမ္ပဏီအနေဖြင့် ကုန်ကြမ်းစပါးဝယ်ယူခြင်း၊ သိုလှောင်ခြင်း၊ အခြောက်ခံခြင်း၊ စပါးများပြုတ်ပေါင်းခြင်း၊ ဆန်စက်စက်ယန္တရားများဝယ်ယူတပ်ဆင်ခြင်း၊ ပေါင်းစက်ယန္တရားများ ဝယ်ယူတပ်ဆင်ခြင်း၊ ကြိတ်ခွဲခြင်း၊ ကုန်ချောများအားလုံးကို ပြည်ပသို့ တင်ပို့ရောင်းချပြီး ပြည်တွင်းတွင် ထားထွက်ဖြစ်ပစ္စည်းများကိုသာ ရောင်းချမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရသည့်အတွက် အဆိုပြု တင်ပြလာသည့် လုပ်ငန်းသည် အဆင့်မြင့်ပေါင်းဆန်များ၊ တန်းမြင့်ဆန်များထုတ်လုပ်ရောင်းချမည့် လုပ်ငန်းတစ်ခု ဖြစ်ကြောင်း သုံးသပ်ရရှိပါသည်။

၃။ အဆိုပြုတင်ပြချက်တွင် အောက်ဖော်ပြပါအချက်များ ထည့်သွင်းတင်ပြသင့်ကြောင်း စိစစ်တွေ့ရှိရပါသည် -

(က) တင်သွင်းမည့်စက်ယန္တရားများ အသေးစိတ်တင်ပြထားကြောင်း စိစစ်တွေ့ရှိရသော်လည်း အဆိုပါစက်ပစ္စည်းများ၏ Technical Specification များအား ထည့်သွင်းတင်ပြပေးရန် လိုအပ်ပါသည်။

(ခ) အသစ်တပ်ဆင်တည်ဆောက်မည့် စက်များအတွက် Processing Chart ၊ Machine Layout Plan နှင့် Project Site Detail Layout Plan များကိုပါ အသေးစိတ်ဖော်ပြရန်လိုအပ်ပါသည်။

(ဂ) အသစ်တိုးချဲ့ တည်ဆောက်မည့် အဆောက်အဦပုံစံအား ရှင်းလင်းပြတ်သားစွာ တင်ပြပေးရန်လိုအပ်ပါသည်။

၄။ Paw Sann Rice International Company Limited အနေဖြင့် အဆိုပြုတင်ပြချက်တွင် မိမိဆောင်ရွက်မည့်လုပ်ငန်းနှင့်အညီ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအမံများ၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီအမံများ ပြည့်စုံစွာတင်ပြထားကြောင်း စိစစ်တွေ့ရှိရပါသည်။

၅။ သို့ဖြစ်ပါ၍ ဖက်စပ်လုပ်ငန်းဆောင်ရွက်မည့် Paw Sann Rice International Company Limited သည်ဆန်စပါးအခြေခံတန်ဖိုးမြှင့်ဆန်များ၊ ပေါင်းဆန်များ ထုတ်လုပ်တင်ပို့ရောင်းချမည့် လုပ်ငန်းဖြစ်သည့်အတွက်ဒေသခံပြည်သူများအလုပ်အကိုင်ရရှိခြင်း၊ ဆန်စပါးအခြေခံကုန် ထုတ်လုပ်မှု နည်းပညာများတိုးတက်ဖွံ့ဖြိုးလာနိုင်ခြင်း၊နိုင်ငံခြားဝင်ငွေတိုးတက်လာနိုင်ခြင်းစသည့်အကျိုးကျေးဇူး များရရှိနိုင်မည့်ဖြစ်၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် ညီညွတ်ပါက စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာနအနေဖြင့် သီးခြားသဘောထားမှတ်ချက်ပြုရန် မရှိပါကြောင်းနှင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၇/၁၃

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)

( တိုးအောင်မြင့်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်မှုမြှင့်တင်ရေးနှင့် စားသုံးသူရေးရာဦးစီးဌာန

နောက်ဆက်တွဲ (ဃ)

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆ (၄၃၀၂)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၉ ရက်

IC, 114 3/3 သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈.၂.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၂/ န-၁၄၆/ ၂၀၁၆ (၁၆၆)

P. 35 1.3.16

၁။ Paw Sann Rice International Co.,Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံခရိုင်၊ ဒေးဒရဲမြို့နယ်၊ ထောင်မှူးချောင်းကျေးရွာအုပ်စု၊ နီဗွာန်ကွင်း၊ အကွက်အမှတ်(၂၅၃-က)၊ ဦးပိုင်အမှတ်(၈+က/၉)(က,ခ,ဂ,ဃ)နှင့် ဦးပိုင်အမှတ်(၉-ခ+၁၀/၁)(က,ခ,ဂ,ဃ,င,စ)တွင် တစ်ရက်လျှင် စပါးတန် (၅၀၀)ကြိတ်ဝါးနိုင်သည့် နိုင်ငံတကာ အဆင့်မီ ဆန်စက်တည်ထောင်၍ အဆင့်တန်းမြင့် ပေါင်းဆန်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တစ်ရက်လျှင် စပါးတန် (၅၀၀)ကြိတ်ဝါးနိုင်သည့်နိုင်ငံတကာအဆင့်မီ ဆန်စက်တည်ထောင်၍ အဆင့်တန်းမြင့် ပေါင်းဆန်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

( ဂ ) အဆင့်မြင့်ပေါင်းဆန်ထုတ်လုပ်ခြင်းဖြင့် ပြည်ပပို့ကုန်တိုးမြှင့်တင်ပို့နိုင်ပြီး နိုင်ငံခြားဝင်ငွေရရှိမည်ဖြစ်ပြီး ယခင်က တန်(၁၀၀)အကြီးဆုံးဖြစ်၍ ယခုတန်(၅၀၀) အတွက် လိုအပ်သော Power Supply ကို ဘွိုင်လာဖြင့် ထုတ်လုပ်မည်ဖြစ်ပါသည်။

၃။ သို့ပါ၍ Paw Sann Rice International Co.,Ltd. မှ တစ်ရက်လျှင် စပါးတန်(၅၀၀)ကြိတ်ခွဲနိုင်သည့် နိုင်ငံတကာအဆင့်မီ ဆန်စက်တည်ထောင်၍ အဆင့်တန်းမြင့် ပေါင်းဆန်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်အား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၉.၂.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

နောက်ဆက်တွဲ (င)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ ၁၁/ Paw Sann Rice (၁၁၄/၂၀၁၆)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၁၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈.၂.၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရက-၂/န-၁၄၆/၂၀၁၆ (၁၆၃)

၁။ စင်္ကာပူနိုင်ငံ Agrastar Pte Limited မှ (၇၀%) နှင့် မြန်မာနိုင်ငံမှ ဦးသူရမြင့် (၂၁%)၊ ဦးဟန်လင်းထွန်း (၅%)၊ ဦးရင်ထွေး (၄%) တို့မှ အစုရှယ်ယာများထည့်ဝင်၍ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Paw Sann Rice International Company Limited တည်ထောင်ကာ ဧရာဝတီတိုင်းဒေသကြီး၊ ဖျာပုံခရိုင်၊ ဒေးဒရဲမြို့နယ်၊ ထောင်မှူးချောင်းကျေးရွာအုပ်စု၊ နိဗ္ဗာန်ကွင်း၊ အကွက်အမှတ် (၂၅၃-က)၊ ဦးပိုင် အမှတ် (၈+က/၉) (က,ခ, ဂ,ဃ) အတွင်းရှိ မြေ (၄.၂၅) ဧကနှင့် ဦးပိုင်အမှတ် (၉-ခ+၁၀/၁) (က,ခ,ဂ,ဃ,င,စ) အတွင်း ရှိမြေ (၈.၁၄) ဧက၊ စုစုပေါင်းမြေ (၁၂.၃၉) ဧကကို ငှားရမ်း၍ တစ်ရက်လျှင် စပါးတန် (၅၀၀) ကြိတ်ခွဲနိုင်သည့် နိုင်ငံတကာအဆင့်မီ ဆန်စက်တည်ထောင်၍ အဆင့်တန်းမြင့် ပေါင်းဆန်ထုတ် လုပ်ခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် (MIC) သို့ အဆိုပြုတင်ပြလာသည့် ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် MIC မှ လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန သို့ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ ယင်းကိစ္စနှင့်ပတ်သက်၍အဆိုပြုတင်ပြသည့်မြေနေရာများသည် ဦးရင်ထွေးမှစာချုပ်စာတမ်းမှတ်ပုံတင်အမှတ်(၄/၂၀၁၂)ဖြင့် ဝယ်ခဲ့ပြီးဖြစ်ခြင်း၊ လယ်ယာမြေဥပဒေပုဒ်မ ၃၀(က) အရ လယ်မြေမှ တစ်ပါးလယ်ယာမြေကိုအခြားနည်းဖြင့်အသုံးပြုခွင့်ရရှိပြီးဖြစ်ခြင်းတို့ကြောင့် ခွင့်ပြုချက်နှင့်အညီဆောင်ရွက်ရန်ဖြစ်ကြောင်း နှင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၆.၂.၁၆

ဒုတိယဝန်ကြီး(ကိုယ်စား)
(သက်နိုင်ဦး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)